| စဉ် | ၁။ တည်နေရာ | ၂။အကျယ်အဝန်း | အမျိုးအစား | မှတ်ချက် |
|---|---|---|---|---|
| ၁ | တာချီလိပ်လေဆိပ် | 200'x200' | အစိုးရပိုင်မြေ | Lease From DCA |
| ၂ | ကော့သောင်းလေဆိပ် | 200'x200' | အစိုးရပိုင်မြေ | Lease From DCA |
| ၃ | မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ် | 400' x 400' | အစိုးရပိုင်မြေ | Lease From MC-JALUX |
| ၄ | ညောင်ဦးလေဆိပ် | 200'x200' | အစိုးရပိုင်မြေ | Lease From DCA |
| ၅ | ဟဲဟိုးလေဆိပ် | 200'x200' | အစိုးရပိုင်မြေ | Lease From DCA |
| ၆ | စစ်တွေလေဆိပ် | 200'x200' | အစိုးရပိုင်မြေ | Lease From DCA |
| ၇ | မြစ်ကြီးနားလေဆိပ် | 200' x 200' | အစိုးရပိုင်မြေ | Lease From DCA |

(၃) လက်ရှိပိုင်ဆိုင်သူ ၊ Department of Civil Aviation (Own by Government)

(၄) မြေအမျိုးအစား ၊ အစိုးရပိုင်မြေ

(၅) မြေငှားရန်ခွင့်ပြုကာလ ၊ ---------------------------------------------------

(၆) ငှားရမ်းမည့်ကာလ ၊ပြည်တွင်းလေဆိပ်(၆)နေရာရှိမြေငှားရမ်းကာလမှာ(၁၀) နှစ်ဖြစ်ပြီး သက်တမ်းတိုးနိုင်သည်။ DCAနှင့်ချုပ်ဆိုပါမည်။ မန္တလေးလေဆိပ်မြေငှားရမ်းကာလမှာနှစ်(၃၀)ဖြစ်ပြီး၊(၁၀)နှစ်တစ်ကြိမ် MC- JALUX Airport Services Co.,Ltd. နှင့် စာချုပ်ချုပ်ဆိုငှားရမ်းမည်။

(၇) ငှားရမ်းခနှုန်းထား ၊

(ကက) မြေ ၊ 1 Square Meter လျှင် ၅၀၀ဝိ/-နှုန်း ဖြစ်ပါသည်

(ခခ) အဆောက်အဦး ၊ မပါရှိပါ

(၈) ရပ်ကွက် ၊ လေဆိပ်ဝင်း

(၉) မြို့နယ် ၊ တံတားဦးမြို့နယ်၊ မြစ်ကြီးနားမြို့နယ်၊ တာချီလိတ်မြို့နယ် ကော့သောင်းမြို့နယ်၊ဟဲဟိုးမြို့နယ်၊ ညောင်ဦးမြို့နယ် စစ်တွေမြို့နယ်။

(၁၀) ပြည်နယ် / တိုင်းဒေသကြီး ၊ ရန်ကုန်တိုင်းဒေသကြီး၊မန္တလေးတိုင်းဒေသကြီး ၊ရှမ်းပြည်နယ် ရခိုင်ပြည်နယ်၊ ကချင်ပြည်နယ်။

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် ၊

(ကက) အမည် / ကုမ္ပဏီအမည်/ ဌာန ၊ ဦးကျော်ငြိမ်း (Chief Executive Officer)

(ခခ) အဖအမည် ၊ ဦးတိုး

(ဂဂ) နိုင်ငံသား ၊ ဗမာ

(ဃဃ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ၊ ၁၂/ မဂဒ (နိုင်) ၀၁၇၂၂၇

/နိုင်ငံကူးလက်မှတ်

(ငင) နေရပ်လိပ်စာ ။ အမှတ်(၄၀၂(A)၊ အမှတ်(၃)ရပ်ကွက်၊ ငွေကြာရံ(၁၄)လမ်း၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဂ) ဆောက်လုပ်မည့်အဆောက်အဦးလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား / အရေအတွက် ။ ----------------------------------------

(၂) အကျယ်အဝန် ----------------------------------------------------------------------------

(အသေးစိတ် အဆောက်အဦးစာရင်းအား နောက်ဆက်တွဲဖြင့် ဖေါ်ပြအပ်ပါမည် ။ )

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း / ဝန်ဆောင်မှု ။ လေယာဉ်ဆီများတင်သွင်း၊ သိုလှောင် ၊ ဖြန့်ဖြူး ရောင်းချခြင်း ဝန်ဆောင်မှု လုပ်ငန်း

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အား လိုအပ်ချက် ။ ၁၇,၂၈၂ (ကီလိုဝပ်နာရီသန်းပေါင်း)

(စ) နှစ်စဉ်ရေလိုအပ်ချက် ။ ၅,၀၀၀,၀၀၀ဂါလံ (ဂါလံငါးသန်း)

မှတ်ချက် ။ အပိုဒ်၁၂ (ခ) နှင့်စပ်လျဉ်း၍ အောက်ပါအချက်များ ပူတွဲတင်ပြရန် -

(၁) မြေပိုင်ဆိုင်မှု / မြေဂရန် အထောက်အထား ( စက်မှုဇုန်းမှ အပ ) နှင့် မြေပုံ

(၂) မြေငှားစာချုပ် (မူကြမ်း )

(မြေငှားချုပ်မူကြမ်းများကို နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်)

၁၃။ ငွေကြေးပိုင်ဆိုင်မှု နှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက် -

(က) အမည် / ကုမ္ပဏီအမည် ။ ဦးကျော်ငြိမ်း၊ Golden Myanmar Airline Public Co.,Ltd.

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ။ ၁၂/ မဂဒ (နိုင်) ၀၁၇၂၂၇

(ဂ) ဘဏ်စာရင်းအမှတ်၊ ။ CO-OPERATIVE BANK LTD,USD A/C No - 0010101200004968
MMK A/C No - 0016100500003228

(မိခင်နိုင်ငံ၏ဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်း ပူးတွဲတင်ပြပါမည် )

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့်ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ/ အဆင့်မြင့်အရာရှိများ) | ၄ | ၀ | ၄ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု ( အကြီးတန်း စီမံခန့်ခွဲမှုမှ အပ) | ၉ | ၀ | ၉ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၃၅ | ၀ | ၃၅ |
| (ဃ) | နည်းပညာနှင့် ဆက်စပ်သည့် သက်မွေးဝမ်းကျောင်း | ၁၆ | ၀ | ၁၆ |
| (င) | အကြံပေး | ၀ | ၀ | ၀ |
| (စ) | ကျွမ်းကျင်လုပ်သား | ၇၆ | ၀ | ၇၆ |
| (ဆ) | အခြေခံလုပ်သား | ၄၀ | ၀ | ၄၀ |
| | စုစုပေါင်း | ၁၈၀ | ၀ | ၁၈၀ |

မှတ်ချက် ။ အောက်ဖော်ပြပါအချက်များအား တင်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး နှင့် သက်သာချောင်ချိမှု ဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြထားခြင်းရှိ/ မရှိ ဖော်ပြရန် -

☐ မြေအသုံးပြုခွင့် လျှောက်ထားလွှာ ၊ မရှိပါ ။

☐ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ ၊ ရှိပါသည်၊ လျှောက်ထားပါမည်။

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်။




လျှောက်ထားသူလက်မှတ်

အမည် - Kyaw Nyein

ရာထူး - Chief Executive Officer

ကုမ္ပဏီ - Golden Myanmar Airlines

## အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်(နည်းဥပဒေ-၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွားသိသာထင်ရှားစွာ ပါဝင်သောအခြား ပုဂ္ဂိုလ်များ ဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့်အမြတ်ငွေ၏ ၁၀% နှင့်အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့်လုပ်ငန်း၏ -

(၁) အမည် ၊ ------------------------------------------------------------

(၂) ဆက်သွယ်ရမည့်လိပ်စာ ၊ ------------------------------------------------------------

(၃) မှတ်ပုံတင်အမှတ် ၊ ------------------------------------------------------------

(တစ်ဦးထက်ပိုပါသဖြင့်နောက်ဆက်တွဲဖြင့်ဖော်ပြအပ်ပါသည်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင် တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံ ကုမ္ပဏီများ၏ အမည်ကိုဖော်ပြရန်-

(၁)

(၂)

(၃)

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ်တည်နေရာများ ၊ ၁။ အကွက်အမှတ် -၃၁ ၊ ၃၂ (စီ)သီလဝါဆိပ်ကမ်း ၊ကျောက်တန်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ။
၂။ မန္တလေးလေဆိပ်၊ တံတားဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။
၃။ တာချီလိတ်လေဆိပ်၊ တာချီလိတ်မြို့၊ ရှမ်းပြည်နယ်။
၄။ ကော့သောင်းလေဆိပ်၊ ကော့သောင်းမြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။
၅။ မြစ်ကြီးနားလေဆိပ်၊ မြစ်ကြီးနာမြို့ ၊ ကချင်ပြည်နယ်။
၆။ ဟဲဟိုးလေဆိပ်၊ ဟဲဟိုးမြို့၊ ရှမ်းပြည်နယ်။
၇။ ညောင်ဦးလေဆိပ် ၊ ညောင်ဦးမြို့ ၊ မန္တလေးတိုင်းဒေသကြီး။
၈။ စစ်တွေလေဆိပ်၊ စစ်တွေမြို့ ၊ရခိုင်ပြည်နယ်။

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက်။ ၊ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင် ၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၄။ အဆိုပြုထားသောရင်းနှီးမြှုပ်နှံမှုပမာဏ ၊ ကျပ် ၄၄၀၇၈.၆၃ သန်း ( US$ 28.44 သန်း )
(မြန်မာကျပ် နှင့် US Dollar ဖြင့်ဖော်ပြရန်)

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင်အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလ သို့မဟုတ် ပြင်ဆင်မှုကာလ ၊ ဒီဇင်ဘာလ - ၂၀၂၂ ထိ။ (၄) နှစ်

(ခ) စီးပွားဖြစ်စတင်မည့်ကာလ ၊ တာချီလိတ်၊ ကော့သောင်း Depot များနှင့် သီလဝါတာမင်နယ်တည်ဆောက်မှုပြီးချိန်

၆။ ခန့်ထားမည့်အလုပ်သမားဦးရေ -

(က) ပြည်တွင်း ၊ ၁၈၀ ဦး

(ခ) ပြည်ပ (ပညာရှင်/ ကျွမ်းကျင်သူ) ၊ မရှိပါ

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည်ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့်ယူဆောင်မှု ပမာဏ ( Capital In Cash)ရင်းနှီးပစ္စည်းအဖြစ် ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ ( Capital In Kind ) တို့ အား တိကျစွာ ခွဲခြား သတ်မှတ်ဖော်ပြပေးရန် ( မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့်ဖော်ပြရန် )

(က) ငွေသားဖြင့်ယူဆောင်လာမှု ။ မရှိပါ

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ ။ မရှိပါ

မှတ်ချက်။ ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှု နှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် အချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံတင်ပြတောင်းဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်း အာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက် များကို လျှောက်ထားသူမှ ပေးအပ်ရန်ပျက်ကွက်ခဲ့ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။




လျှောက်ထားသူလက်မှတ် ။ (signature)

အမည် ။ Kyaw Nyein

ရာထူး ။ Chief Executive Officer

ဌာန/ကုမ္ပဏီတံဆိပ်။ Golden Myanmar Airlines

Form (2)

# Proposal Form for the Investment to be made In the Republic of the Union of Myanmar

To

Chairman

Myanmar Investment Commission

Reference No-GMA /MIC / Proposal 2019 (    )

Date - 7th January 2019

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Section 36 of the Myanmar Investment Law by furnishing the following particulars: -

1. The Investor's : -

| | | | |
|---|---|---|---|
| (a) | Name | ı | U Than Tun |
| (b) | Father's Name | ı | U Ba Tun |
| (c) | ID No./ NRC No./ PP No. | ı | 12/ Ba Ha Na (N) 078104 |
| (d) | Citizenship | ı | Bamar |
| (e) | Address: | | |
| | (i) Address in Myanmar | ı | No. (52/B) ,Shwe Taung Kyar (2) Ward , Bahan Tsp , Yangon Division |
| | (ii) Residence abroad | ı | |
| (f) | Phone / Fax | ı | +95 1 401484 ,+ 95 1 8604035~8,+951 8604051 |
| (g) | E-mail Address | ı | www.gmairlines.com |
| (h) | Name of Principle Organization | ı | Golden Myanmar Airlines Public Company Limited. |
| (i) | Type of Business | ı | To Import, Storage and sales Aviation Jet A-1 Fuel, Detail plan has been expressed in Appendix ( ) . |
| (j) | Principle company's address | ı | 3rd Floor , Saya San Plaza, Corner of New University Avenue & Saya San Road, Bahan Township, Yangon |

2. If the investment business is formed under joint Venture, partners':

| | | | |
|---|---|---|---|
| (a) | Name | ı | -------------------------------------- |
| (b) | Father's Name | ı | -------------------------------------- |
| (o) | ID No./ NRC No./ PP No. | ı | -------------------------------------- |
| (d) | Citizenship | ı | -------------------------------------- |

(e) Address ၊
(i) Address in Myanmar ၊ -------------------------------------------
(ii) Residence abroad ၊ -------------------------------------------
(f) Parent Company ၊ -------------------------------------------
(g) Parent Company's address ၊ -------------------------------------------

Note : The following documents need to be attached according to the above paragraph (1) and (2)

(1) Company registration certificate (copy) ;
(2) National Registration Card (copy) and Passport (copy);
(3) Evidences about the business and financial conditions of the participants of the proposed investment business;

3။ If the investment don't apply for permission to make investment by himself/ herself, the applicant;

(a) Name ၊ U Kyaw Nyein ( Chief Executive Officer)
(b) Name of Contact Person ၊ Daw Mar Mar Aye ( Director)
(if applicant is business organization)

Remark : To submit the official letter or legal representative as attachment

(c) ID No./ NRC No./ PP No. ၊ 12/Ma Ga Da (N) 017227
(d) Citizenship ၊ Myanmar
(e) Address in Myanmar ၊ No-402 (A), No(3) Ward, Ngwe Kyar Yan (14) Road , South Okkalapa Township , Yangon Region
(f) Phone / Fax ၊ +951 8604036 , +951 8604051
(g) E-mail ၊ kyawnyein@gmairlines.com

4. Type of proposed investment business ၊ Import, Storage and sales Aviation Jet A-1 Fuel

5။ Type of business organization to be formed :

☐ One Hundred Percent ☐ Joint Venture ( To attach the draft of JV agreement)

☐ Type of Contractual basis (To attach contact (agreement) draft)

6။ List of Shareholders

| No | Name of Shareholder | Citizenship | Hold Share Percentage | |
|---|---|---|---|---|
| 1 | U Khin Maung Aye | Myanmar | 2.2395% | 2,,239,500 |
| 2 | U Kyaw Linn | Myanmar | 0.2539% | 253,884 |
| 3 | U Thein Tun | Myanmar | 0.40% | 400,000 |
| 4 | U Than Tun | Myanmar | 0.001% | 1,000 |
| 5 | U Kyaw Nyein | Myanmar | 0.001% | 1,000 |
| 6 | Daw Khin Aye Nwe | Myanmar | 0.13% | 129,860 |
| 7 | Daw Mar Mar Aye | Myanmar | 0.001% | 1,000 |
| 8 | Daw Khin Hla Hla | Myanmar | 0.001% | 1,000 |
| 9 | U Kaung Htet Tun | Myanmar | 0.001% | 1,000 |

| | | | | |
|---|---|---|---|---|
| 10 | U Aung Gyi | Myanmar | 0.001% | 1,000 |
| 11 | U Thiha Aung | Myanmar | 0.001% | 1,000 |
| 12 | Other Public Share ( 128 persons) | | 0.098% | 97,983 |
| | | | | 3,128,227 |

Note : Detail Director list has expressed in appendix (A)

7။ Particulars of Company incorporation

(a) Authorized Capital ၊ MMK1,000,000,000,000 (MMK One Trillion)

(b) Type of Share ၊ Ordinary Shares (one share is MMK 10,000/-)

(c) Number of Share ၊ 100,000,000 Share (One Hundred Million)

Note: Describe with annexure if it is required for the specific condition in regard to the above Paragraph 8 (e).

8။ Particulars of Paid –up Capital of the investment business -

| | | Kyat(Million) / US$ (Million) |
|---|---|---|
| (a) | Amount / percentage of local capital to be contributed ၊ | 25071.91 / 12.2624 |
| (b) | Amount / percentage of foreign capital to be brought in ၊ | - / - |
| | **Total** ၊ | **25071.91 / 12.2624** |

(c) Annually or period of proposed capital to be brought in ၊ (4) Years

(d) Value / Amount of investment ၊ MMK (44078.63) Million

(e) Investment Period ၊ 30 Years

(f) Construction / Preparation Period ၊ (4) Years

Note: Describe with annexure if it is required for the specific condition in regard to the above Paragraph 8 ( e) .

9။ Detailed list of foreign capital to be brought in -

| | | Foreign Currency ( Million) | Equivalent Kyat (Million)) |
|---|---|---|---|
| (a) | Foreign Currency (Type and Value) ၊ | - | - |
| (b) | Machinery and equipment (to enclose detailed list) ၊ | - | - |
| (c) | The value of initial raw material and Other similar materials (to enclose detailed list) ၊ | ------------------ | ----------------- |
| (d) | Value of license, intellectual property Industrial design ,trade mark, Patent , etc. ၊ | ------------------- | ------------------ |
| (e) | Value of technical know-how ၊ | ----------------- | ----------------- |
| (f) | Other (eg: Construction material) ၊ | ------------------ | ------------------ |
| | **Total** | - | - |

Remark : The evidence of permission shall be submitted to the above paragraph 9 (d)

10. Details of local capital to be contributed -

| | | | Kyat (Million) |
|---|---|---|---|
| (a) | Cash Amount | ၊ | 18,472.20 |
| (b) | Value of machinery and equipment<br>( To enclose the detailed list) | ၊ | 7,845.44 |
| (c) | Value of rental rate of land and buildings | ၊ | 1,859.04 |
| (d) | Cost of building construction | ၊ | ------------- |
| (e) | Value of Furniture and assets<br>( To enclose the detailed list) | ၊ | 175.70 |
| (f) | Value of initial raw material<br>(To enclose the detailed list) | ၊ | --------------- |
| (g) | Others | ၊ | 15,726.25 |
| | **Total** | | 44,078.63 |

11. Particulars of Loans ၊ -

☐ Loan (Local) ၊-------------------------------------------- Kyats

၊-------------------------------------------- US$

☐ Loan (abroad) ၊-------------------------------------------- US$

Note ၊ Detail list of Cash and investment has expressed in Appendix ( ) .

12. Particular about the Investment Business -

(a) **Investment location(s) / place** ၊ Investment place is located at as follow -

(1) No.31/32(C) , Thilawa Port Region, Kyauk Tan Township , Yangon Division

(2) Mandalay International Airport , Tataroo Township , Mandalay Division

(3) Tachileik Domestic Airport , Tachileik Township , Shan State

(4) Kaw Thoung Domestic Airport, Kaw Thoung Township, Tanintharyi Division

(5) Myitkyina Domestic Airport, Myitkyina Township, Kachin State

(6) Heho Domestic Airport, Heho Township , Shan State

(7) Sittwey Domestic Airport , Sittwey Township , Rakhine State

(8) Nyaung U Domestic Airport , Nyaung U Township , Mandalay Division

(b) Type and area requirement for land or land and building

| Sr | 1.Location | 2.Area | 3.Type Of Land | Remark |
|---|---|---|---|---|
| 1 | Tachileik Airport | 200′ x 200′ | Own by Government | Lease From DCA |
| 2 | Kaw Thoung Airport | 200′ x 200′ | Own by Government | 〃 |

| | | | | |
|---|---|---|---|---|
| 3 | Mandalay Airport | 400′ x 400′ | Own by Government | Lease From MC-JALUX Co |
| 4 | Nyaung U Airport | 200′ x 200′ | Own by Government | Lease From DCA |
| 5 | Heho Airport | 200′ x 200′ | Own by Government | 〃 |
| 6 | Sittwey Airport | 200′ x 200′ | Own by Government | 〃 |
| 7 | Myitkyina Airport | 200′ x 200′ | Own by Government | 〃 |

(iii) Owner of land : Department Of Civil Aviation (Government)

(iv) Type of land : Airport Compound (Government Land)

(v) Period of land lease contract : Please see in Attached lease contracts

(vi) Lease period : Land lease period is (10) years for 6 Domestic Airports and can extend (Contract with DCA).
Land lease period is(30)years for MDL intern'l Airport (Contract with MC-JALUX Airport Services Co.,Ltd.)

(vii) Lease rate :

(aa) Land : 5000 Kyats/ 1 Square Meter

(bb) Building : Nil

(viii) Ward : Airport Compound Area

(ix) Twonship : Ta Tar Oo Township , Myitkyina Tsp, Tachileik Tsp, Kaw Thoung Tsp, Heho Tsp, Nyaung U Tsp, Sittwey Tsp .

(x) State/ Region : Yangon Division, Mandalay Division, Shan State Tanintharyi Division , Rakhine State

(xi) Lessee :

(aa) Name/ Name of Company/Dept: :U Kyaw Nyein ( Chief Executive Officer)

(bb) Father's Name : U Bo

(cc) Citizenship : Bamar

(dd) ID No./ PP No. : 12/ Ma Ga Da (N) 017227

(ee) Residence Address : No.402(A) , No (3) Ward, Ngwe Kyar Yan (14) Road South Okkalapa Township, Yangon Division

Note: The following documents have to be enclosed for above Paragraph 12 (b)

(i) to enclose land ownership and ownership evidences ( except industrial zone) and land map:

(ii) Land lease agreement (draft)

(c) Requirement of building to be constructed :

(i) Type / number of Buildings : ------------------------------------------

(ii) Area ı ------------------------------------------

Remark : Total list of buildings are expressed in appendix ( )

(d) Annual products to be produced/ Services ı Import, Storage& Sales Aviation Jet A-1 Fuel

(e) Annual electricity requirement ı 17.282 ( Kilo Watt Hour, Millions)

(f) Annual requirement for water supply ı 5,000,000 Gallons ( Gal :Five Millions )

13. Detailed information about financial standing -

(a) Name / Company Name ı U Kyaw Nyein ( Golden Myanmar Airline Public Co., Ltd.)

(b) ID No./ NRC No./ PP No.ı 12/ Ma Ga Da(N) 017227

(c) Bank Account No. ı CO- OPERATIVE BANK LTD, USD A/C No.-0010101200004968 ,
MMK A/C No. - 0016100500003228

**Remark** : To enclose bank statement from resident country or annual audit report of the principle company with regard to the above paragraph 13.

14. List of Employment:-

| Item | Designation/ Rank | Citizen | Foreign | Total |
|---|---|---|---|---|
| a | Senior Management ( Manager , Senior officials) | 4 | - | 4 |
| b | Other management level (Except from senior management) | 9 | - | 9 |
| c | Professionals | 35 | - | 35 |
| d | Technicians | 16 | - | 16 |
| e | Advisors | - | - | - |
| f | Skill labour | 76 | - | 70 |
| g | workers | 40 | - | 40 |
| | **Total** | 180 | - | 180 |

The following information shall be enclosed:-

(i) Social security and welfare arrangements for all employees;

(ii) Evaluation of environmental impact arrangements

15. Describe whether other Applications are being submitted together with the Proposal or not:

☐ Land Rights Authorization Application ı Nil

☐ Tax Incentive Application ı Yes, Will submit later

16. Describe with annexure the summary of proposal investment. Appendix (E)

**Summary of Proposed Investment ( Rule 38)**

1. Please describe any other person who has a significant direct or indirect interest in the investment.

   (a) Please describe an Enterprise or individual who are entitled to possess more than 10% of the profit distribution:

      (1) Name ---------------------------------------------------------

      (2) Address ---------------------------------------------------------

      (3) Company Registration No. or N.R.C No./ Passport No. ---------------------------------------------

   (b) If there is directly participated Subsidiary in carrying out the proposed investment, please describe the name of that companies:

      (1) ----------------------------------------

      (2) ------------------------------------------

      (3) -----------------------------------------

2. The principal location or location of the investment At as follow:

   (a) No.31/32(C) , Thilawa Port Region, Kyauk Tan Township , Yangon Division

   (b) Mandalay International Airport , Tataroo Township , Mandalay Division

   (c) Tachileik Domestic Airport , Tachiliek Township , Shan State

   (d) Kaw Thoung Domestic Airport, Kaw Thoung Township, Tanintharyi Division

   (e) Myitkyina Domestic Airport, Myitkyina Township, Kachin State

   (f) Heho Domestic Airport, Heho Township , Shan State

   (g) Sittwey Domestic Airport , Sittwey Township , Rakhine State

   (h) Nyaung U Domestic Airport , Nyaung U Township , Mandalay Division

3. A description of the sector in which the Investment is to be made and the actives and Operations to be conducted: To Import , Storage & Sales Aviation JET A-1 Fuel

4. The proposed amount of the investment (In Kyat and US$ ) MMK44078.63 Million( US$28.44 Million )

5. A description of the plan for the implementation of the investment including expected timetables:

   (a) Construction or Preparatory Period December / 2022 (4 years)

   (b) Commercial Operation Date After completion of construction at THL,KAW Depots & Thilawa Terminal

6. Number of employees to be appointed:

   (a) Local — 180 staffs

   ( ) Foreign (Expert / Technician) — Nil

7. Please specify the detailed list of foreign capital (Capital In Cash and Capital In-Kinds) in Kyats and US$

   (a) Capital in – cash to be brought in — Nil

   (b) Capital in – kind to be brought in — Nil

**Note**: The investment may request the Commission to refrain from publishing commercial – in – confidential information of its investment.

**Undertaking**

I/ We hereby declare that the above statements are true and correct to the best of my / our knowledge and belief.

I / We fully understand that proposal may be denied or unnecessarily delayed if the applicant fails to provide required information to access by Commission for issuance of permit.

I / We hereby declare to strictly comply with terms and conditions set out by the Myanmar Investment Commission.




Signature of the applicant

Kyaw Nyein
Chief Executive Officer
Golden Myanmar Airlines

Name :

Title :

Department / Company :

( Seal / Stamp)



# Golden Myanmar Airlines Public Co., Ltd.

စာအမှတ်၊ ဂျီအမ်အေ/အုပ်/ထွေ/ ၁၁၂ / ၂၀၁၇
ရက်စွဲ ၊ ၂၀၁၇ခုနှစ်၊ ဇူလိုင်လ (၂၄) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

အကြောင်းအရာ။ **လေယာဥ်ဆီ/ တင်သွင်း/ သိုလှောင်/ ရောင်းချခွင့်လျှောက်ထားခြင်း**

၁။ အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်၏ Kaung Myanmar Aung Group of Companies သည် အောက်ပါလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိနေပါသည်-

(က) Hotels, Travel & Tours, Arts & Crafts, Education, Healthcare
(ခ) Golden Myanmar Airlines (GMA)
(ဂ) Shipping
(ဃ) Energy & Power
(င) Agriculture & Forestry
(စ) Real Estate Development, Manufacturing
(ဆ) Trading
(ဇ) Shopping Mall, IT& Telecom
(ဈ) Construction

၂။ ကောင်းမြန်မာအောင် သဘော်ကုမ္ပဏီသည် သီလဝါဆိပ်ကမ်းအတွက် အမှတ် ၃၁/၃၂-(ဂ) တွင် စက်သုံးဆီ တင်သွင်း၊ သိုလှောင် ဆိပ်ကမ်းတည်ဆောက်ခွင့်ကို MIC မှခွင့်ပြုပြီးဖြစ်၍ ယခုအခါတည် ဆောက်နေဆဲဖြစ်ပါသည်။ (ပူးတွဲပါ MIC Permit)

၃။ မိမိတို့ Golden Myanmar Airlines အနေဖြင့် နှစ်စဥ်လေယာဥ်ဆီ လီတာ(၅)သန်းခန့် ဝယ်ယူ အသုံးပြုလျှက်ရှိပါသည်။

၄။ ယခုအခါ လေယာဉ်ဆီများ ကိုယ်တိုင်တင်သွင်း၍ လေယာဉ်လိုင်းများအားလုံးသို့ ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဖြူးရောင်းချရန် အတွက် လေယာဉ်ဆီ တင်သွင်း/သိုလှောင်/ရောင်းချခွင့် ခွင့်ပြုပေးနိုင်ပါရန် လေးစားစွာ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ခင်မောင်အေး
ဥက္ကဋ္ဌ
Golden Myanmar Airlines

မိတ္တူကို
- ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ နေပြည်တော်
- ရုံးလက်ခံ






# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၈၄ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကျော်လင်း

(ခ) အဘ အမည် ဦးလှမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂ /သဃက(နိုင်) ၀၆၀၃၂၈

(ဃ) နေရပ်လိပ်စာ အမှတ် -၃၂(ဘီ)၊ (၃၂)ရိပ်သာ၊(၁၁)ရပ်ကွက်၊(၆)မိုင်ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Kaung Myanmar Aung Shipping Co., Ltd

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ သိုလှောင်ကန်များ နှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေကွက်အမှတ်-၃၁၃၂(စီ)၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေ (၂၄.၇၁)ဧက။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၀၂၃၁.၀၀ (သန်း) စုစုပေါင်းကျပ်(တစ်သောင်း၊ နှစ်ရာ သုံးဆယ့် တစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




Abt. 4624051 [22/8/17] 01-658142

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း - ၉၅-၁-၆၅၈၁၃၀
ဖက်(စ်) - ၉၅-၁-၆၅၈၁၄၂

စာအမှတ်၊ မရက - ၅(စ)/ မ-ထွေ/၂၀၁၇ (၃၈၈)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၁ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **Golden Myanmar Airlines Public Co., Ltd. မှ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ရောင်းချခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Golden Myanmar Airlines Public Co., Ltd. ၏ ၂၄-၇-၂၀၁၇ ရက်စွဲပါစာ

၁။ Golden Myanmar Airlines Public Co., Ltd. သည် နှစ်စဉ် လေယာဉ်ဆီ လီတာ ၅ သန်းခန့် ဝယ်ယူ အသုံးပြုလျက်ရှိပြီး ယခုအခါ လေယာဉ်ဆီများ ကိုယ်တိုင်တင်သွင်း၍ လေယာဉ်လိုင်းများအားလုံးသို့ ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဖြူးရောင်းချခွင့်ပြုနိုင်ပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီသည် မြန်မာနိုင်ငံသားပိုင် Kaung Myanmar Aung Group of Companies ၏ ကုမ္ပဏီခွဲ တစ်ခုဖြစ်ပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ Kaung Myanmar Aung Shipping Co., Ltd. အမည်ဖြင့် BOT စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ သိုလှောင်ကန်များနှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းအား ခွင့်ပြုမိန့်အမှတ် မနသ-၈၈၄/၂၀၁၃(၁၁-၂-၂၀၁၃)ဖြင့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Golden Myanmar Airlines Public Co., Ltd. မှ လေယာဉ်ဆီများ ကိုယ်တိုင်တင်သွင်း၍ လေယာဉ်လိုင်းများအားလုံးသို့ ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဖြူးရောင်းချခွင့်ပြုနိုင်ပါရန် တင်ပြလာခြင်းအား သက်ဆိုင်ရာဝန်ကြီးဌာနများအနေဖြင့် ခွင့်ပြုပေးနိုင်ရေး လိုအပ်သလိုညှိနှိုင်းဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆီပိုက်လမ်းအာဏာပိုင်
ညွှန်ကြားရေးမှူးချုပ်၊ လေကြောင်းဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း

ဦးဝင်းမော်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်၊ ရေနံနှင့်သဘာဝဓာတ်ငွေ့စိမံရေးဦးစီးဌာန
ဦးမျိုးမင်းဦး၊ လက်ထောက်အတွင်းဝန်၊ ဝန်ကြီးရုံး၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
၈ Golden Myanmar Airlines Public Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ






# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၈၄ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီ လ 17 ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကျော်လင်း

(ခ) အဘ အမည် ဦးလှမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂ /သဃက(နိုင်) ၀၆၁၃၂၈

(ဃ) နေရပ်လိပ်စာ အမှတ် -၃၂(ဘီ)၁၊ (၃၂)ရိပ်သာ၊(၁၁)ရပ်ကွက်၊(၆)မိုင်ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Kaung Myanmar Aung Shipping Co., Ltd

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီသိုလှောင်ကန်များ နှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေကွက်အမှတ်-၃၁၊၃၂(စီ)၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ (၂၄.၇၁)ဧက။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၀၂၃၁.၀၀ (သန်း) စုစုပေါင်းကျပ်(တစ်သောင်း၊ နှစ်ရာ သုံးဆယ့် တစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ စွမ်းအင်/စီမံ- စာရင်း/၄/၄၀( ၇၁၈ )၂၀၁၇
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Golden Myanmar Airlines Public Co., Ltd. မှ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ရောင်းချခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ ယင်းရုံး၏ ၂၁-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/မ-ထွေ/၂၀၁၇(၃၈၈)

၁။ မြန်မာနိုင်ငံသားပိုင် Kaung Myanmar Aung Group of Companies ၏ ကုမ္ပဏီခွဲ တစ်ခုဖြစ်သည့် Golden Myanmar Airlines Public Co., Ltd. သည် နှစ်စဉ် လေယာဉ်ဆီ လီတာ ၅ သန်းခန့် ဝယ်ယူအသုံးပြုလျက်ရှိရာမှ လေယာဉ်ဆီများ ကိုယ်တိုင်တင်သွင်း၍ လေကြောင်းလိုင်းများအားလုံးသို့ ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဖြူးရောင်းချခွင့်ပြုနိုင်ပါရန် တင်ပြလာခြင်းအား ခွင့်ပြုပေးနိုင်ရေး လိုအပ်သလိုညှိနှိုင်းဆောင်ရွက်နိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ နိုင်ငံတော်၏ ပြောင်းလဲကျင့်သုံးခဲ့သည့် ဈေးကွက်စီးပွားရေးစနစ်နှင့်အညီ ၂၀၁၀ပြည့်နှစ်မှ စ၍ ပုဂ္ဂလိကစက်သုံးဆီ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို လွတ်လပ်စွာ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုခဲ့သည့်နည်းတူ လေယာဉ်ဆီများ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချ ခြင်းလုပ်ငန်းကိုလည်း ပြည်တွင်းပြည်ပကုမ္ပဏီများအနေဖြင့် သတ်မှတ်နိုင်ငံတကာ အရည် အသွေးစံချိန်စံညွှန်းများနှင့်အညီ ပုဂ္ဂလိကလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုခဲ့ရာတွင် နိုင်ငံသားပိုင် Pioneer Aerodrome Services Co., Ltd. တစ်ခုသာ နေပြည်တော် အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် လေယာဉ်ဆီသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သတ်မှတ်ချက်များနှင့်ကိုက်ညီသောကြောင့် ၂၀၁၄ ခုနှစ်မှစ၍ လေယာဉ်ဆီ ဖြန့်ဖြူးရောင်းချခွင့်လိုင်စင်ကို ခွင့်ပြုထုတ်ပေးခဲ့ပြီး လက်ရှိလုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ Golden Myanmar Airlines Public Co., Ltd. မှ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ရောင်းချခွင့်ပြုပါရန်တင်ပြလာမှုအပေါ် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေနံနှင့်ရေနံထွက်ပစ္စည်းဆိုင်ရာဥပဒေနှင့်အညီ လုပ်ငန်းလိုင်စင်များ ရယူဆောင်ရွက်သွားရန်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

အမြဲတမ်းအတွင်းဝန် (ကိုယ်စား)
(ဌေးအောင်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန (ဝန်ကြီးရုံး)
မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြို့

စာအမှတ်၊ လညန/အုပ်ချုပ်-စီမံ/၃-၁၈ / ၂၀၃၅
ရက်စွဲ၊၂၀၁၈ ခုနှစ်၊ မတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ပြည်တွင်းလေဆိပ်များတွင် ရွှေမြန်မာလေကြောင်းအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှလေယာဉ်ဆီဖြန့်ဖြူးရောင်းချရန်မြေနေရာငှားရမ်းအသုံးပြုခွင့် တင်ပြထားခြင်း

၁။ ရွှေမြန်မာလေကြောင်းအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ လေယာဉ်ဆီဖြန့်ဖြူးရောင်းချရန်အတွက် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်၊ မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ်၊ တာချီလိတ်လေဆိပ်၊ ဟဲဟိုးလေဆိပ်၊ စစ်တွေလေဆိပ်၊ ကော့သောင်းလေဆိပ်နှင့် ပုဂံ-ညောင်ဦးလေဆိပ်တို့တွင် မြေနေရာငှားရမ်းအသုံးပြုခွင့် လျှောက်ထားခဲ့ပါသည်။

၂။ အထက်ဖော်ပြပါကိစ္စရပ်အတွက် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် ပြည်တွင်းလေဆိပ်များအတွက်မြေနေရာငှားရမ်းရေးအား မူအားဖြင့်သဘောတူထားပြီးဖြစ်ပါသည်။ ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်နှင့် မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ်များအတွက် သက်ဆိုင်ရာလေဆိပ် Operator နှင့် ညှိနှိုင်းဆောင်ရွက်သွားရမည်ဖြစ်ပါသည်။ လတ်တလောတွင်ရွှေမြန်မာလေကြောင်းသို့ ပြည်တွင်းလေဆိပ်များတွင် လေယာဉ်ဆီသိုလှောင်ကန်များ၊ ဂိုဒေါင်၊ ရုံးခန်းနေရာများ ဆောက်လုပ်ရန်အတွက် လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနနှင့် ညှိနှိုင်းမှုပြုလုပ်လျှက်ရှိပါသည်။

၃။ သို့ဖြစ်ပါသဖြင့် ရွှေမြန်မာလေကြောင်းအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ လေယာဉ်ဆီဖြန့်ဖြူးရောင်းချရေးအတွက် သက်ဆိုင်ရာသို့ ခွင့်ပြုမိန့် တင်ပြလျှောက်ထားခြင်းအား ဤဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
တင်မောင်နီ-ညွှန်ကြားရေးမှူး၊အုပ်ချုပ်စီမံ/နယ်လေဆိပ်(ပူးတွဲ)

6.3.18

P.362

မိတ္တဴကို

ရွှေမြန်မာလေကြောင်းလိုင်း

ရုံးလက်ခံ

မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း - ၀၅-၁-၆၅၈၁၃၀
ဖက်(စ်) - ၀၅-၁-၆၅၈၁၄၂

စာအမှတ်၊ မရက - ၅(စ)/ မ-ထွေ/ ၂၀၁၇( ၄၁၄ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၆ ရက်

အကြောင်းအရာ။ **Golden Myanmar Airlines Public Co., Ltd. မှ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ရောင်းချခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၁-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ မ-ထွေ/ ၂၀၁၇ (၃၈၈)
(၂) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၂၉-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စွမ်းအင်/ စီမံ-စာရင်း/၄/၄၀(၇၁၈)၂၀၁၇

၁။ Golden Myanmar Airlines Public Co., Ltd. မှ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ရောင်းချခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ အဆိုပြုလုပ်ငန်းအား ခွင့်ပြုပေးနိုင်ရေး လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၂)ပါစာဖြင့် "ကန့်ကွက်ရန် မရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေနံနှင့် ရေနံထွက်ပစ္စည်းဆိုင်ရာဥပဒေနှင့်အညီ လုပ်ငန်းလိုင်စင်များ ရယူဆောင်ရွက်သွားရန် ဖြစ်ပါကြောင်း" ပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Golden Myanmar Airlines Public Co., Ltd. အနေဖြင့် အဆိုပြုလုပ်ငန်းအား သီးခြားလုပ်ငန်းအဖြစ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလျှောက်ထားရမည်ဖြစ်ကြောင်း အကြောင်းကြားပါသည်။

ဉာဏ်ဌေး(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

**Golden Myanmar Airlines Public Co., Ltd.**

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရန်ကုန်မြို့

စာအမှတ်၊ လညန/လပရ/၁၀-၇၇/၄၁၃၄

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၃၀ ရက်

အကြောင်းအရာ။ **စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး၏ ဆုံးဖြတ်ချက်အား အကြောင်းကြားခြင်း၊**

၁။ ရွှေမြန်မာလေကြောင်းက လေယာဉ်ဆီ တင်သွင်းဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်အတွက် ဤဦးစီးဌာနသို့ ကနဦးအဆိုပြုချက် တင်ပြလာမှုကို ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနသို့ ဆက်လက်တင်ပြခဲ့ရာ ၇-၅-၂၀၁၈ ရက်နေ့တွင် ပြုလုပ်ခဲ့သည့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၈) က အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

"ရွှေမြန်မာလေကြောင်း၏ လေယာဉ်ဆီ တင်သွင်းဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အတွက် ကနဦး လုပ်ငန်းအဆိုပြုချက်ပါအတိုင်း လုပ်ငန်းအဆင့်များခွဲခြား၍ အဆင့်ဆင့် တိုးချဲ့ လုပ်ကိုင်ခွင့်ပြုရန်နှင့် ပထမအဆင့်ဖြစ်သည့် တာချီလိတ်နှင့် ကော့သောင်လေဆိပ်တို့တွင် ဦးစွာ အကောင်အထည်ဖော် ဆောင်ရွက်ခွင့်ပြုသွားရန်၊ မြေငှားရမ်းခအနေဖြင့် တစ်နှစ်လျှင် 1 Square Meter ကို ငွေကျပ် (၅၀၀၀)/- နှုန်းဖြင့် ကောက်ခံသွားရန်နှင့် စီးပွားရေးရာကော်မတီ သို့ တင်ပြနိုင်ရေး ဆက်လက်ဆောင်ရွက်သွားရန်"

၂။ သို့ဖြစ်ပါ၍ ရွှေမြန်မာလေကြောင်းလိုင်းအနေဖြင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၈) ၏ ဆုံးဖြတ်ချက်ကို သိသာနိုင်ပါရန်နှင့် စီးပွားရေးရာကော်မတီသို့ တင်ပြနိုင်ရေးအတွက် ဤဦးစီးဌာနသို့ ကနဦး

CFO/GM ([illegible])

[illegible]

အဆိုပြုချက်တွင် တင်ပြရန်ကျန်ရှိသည့် ငွေကြေးပိုင်ဆိုင်မှုအထောက်အထား စာရွက်စာတမ်းကို ၁-၆-၂၀၁၈ ရက်နေ့ နောက်ဆုံးထား တင်ပြရန် အကြောင်းကြားပါသည်။

မင်းလွင်

ညွှန်ကြားရေးမှူးချုပ်

အမှုဆောင်အရာရှိချုပ်

ရွှေမြန်မာလေကြောင်း။

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန မှ

ပိုင်ဆိုင်သော တာချီလိတ်လေဆိပ်တွင် တည်ရှိသည့်

မြေနေရာအားငှားရမ်း၍

ပေ(၂၀၀x၂၀၀)ရှိစုစုပေါင်းဧက(၀.၉၂)နှင့် (၃၇၁၆.၁၂)စတုရန်းမီတာအကျယ်ရှိ

ရွှေမြန်မာလေယာဉ်ဆီတင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

ဆောင်ရွက်ရန်အတွက်

# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

# လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

# နှင့်

# ရွှေမြန်မာလေယာဉ်ဆီတင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (Golden Myanmar Aviation Fuel Services)

တို့အကြား ငှားရမ်းသည့်ကာလ(၁၀)နှစ်အတွက် (၁)နှစ်ချင်းအလိုက် ချုပ်ဆိုသည့်

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၉ခုနှစ် ------လ (      )ရက်

## မြေငှားရမ်းအသုံးပြုခွင့်ပေးခြင်းသဘောတူစာချုပ်

ဤ မြေငှားရမ်းခြင်းသဘောတူစာချုပ်ကိုပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့ တွင် ၂၀၁၉ခုနှစ် ------ လ ( )ရက်၌ ဦးမင်းလွင်၊ ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ ရုံးခန်းဖွင့်လှစ်ထားရှိသောပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန (နောင်တွင် "မြေ အငှားချထားသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများလည်းပါဝင်သည်) က တစ်ဘက်

နှင့်

ဦးကျော်ငြိမ်း၊ အမှုဆောင်အရာရှိချုပ်ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ကုမ္ပဏီများအက်ဥပဒေနှင့်အညီ ဖွဲ့စည်းထားပြီး ရန်ကုန်တိုင်း၊ ဗဟန်းမြို့နယ်၊ ဆရာစံလမ်းနှင့် တက္ကသိုလ်ရိပ်သာလမ်းသစ်ထောင့်၌ တရားဝင်ရုံးခန်းဖွင့်လှစ်ထားရှိသည့် ရွှေမြန်မာလေယာဉ်ဆီ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း(Golden Myanmar Aviation Fuel Services) (နောင်တွင် "မြေအငှားချထားခြင်းခံရသူ"ဟုရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများလည်းပါဝင်သည်) က အခြားတစ်ဘက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ ဤစာချုပ်ကို ပြုလုပ်ချုပ်ဆို ကြပါသည်။

၁။ **ရည်ရွယ်ချက်**

(၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှု ဦးစီးဌာနသည် တာချီလိတ်လေဆိပ် နယ်မြေအတွင်းတွင် လေယာဉ်ဆီဖြည့်တင်း ခြင်းဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် ပေ(၂၀၀x၂၀၀)ပတ်လည်ရှိ စုစုပေါင်းဧက (၀.၉၂) (၃၇၁၆.၁၂)စတုရန်းမီတာ အကျယ်ရှိမြေနေရာကို ရွှေမြန်မာလေယာဉ်ဆီ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (Golden Myanmar Aviation Fuel Services)သို့ ငှားရမ်းခြင်းမှာ (၁၀)နှစ်ဖြစ်ပြီး (၅)နှစ်လျှင် (၁)ကြိမ်စီစာချုပ် ချုပ်ဆိုဆောင်ရွက်ခြင်းစနစ်ဖြင့် ငှားရမ်းအသုံးပြုခွင့်ပေးရန်ဖြစ်ပါသည်။

(၂) ရွှေမြန်မာလေယာဉ်ဆီ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (Golden Myanmar Aviation Fuel Services)သည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနပိုင် တာချီလိတ်လေဆိပ် နယ်မြေအတွင်းရှိပေ(၂၀၀x၂၀၀)အကျယ်ရှိစုစုပေါင်းဧက(၀.၉၂) (၃၇၁၆.၁၂)စတု ရန်းမီတာ မြေနေရာအား ငှားရမ်းပြီး ယင်းမြေပေါ်တွင် လေယာဉ်ဆီတင်သွင်း

သို့လှောင်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန်နှင့် ယင်းလုပ်ငန်းနှင့်ဆက်စပ်သောလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရန်ဖြစ်ပါသည်။

၂။ **ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

(၁) မြေအငှားချထားသူသည် ဤစာချုပ်၏နောက်ဆက်တွဲ(က)တွင် ဖော်ပြပါရှိသော မြေကိုပိုင်ဆိုင်သူဖြစ်ပြီးယင်းမြေအား အငှားချထားရန်တည်ဆဲဥပဒေအရလုပ်ပိုင်ခွင့်နှင့် အာဏာအပ်နှင်းခြင်းခံရ၍ ဤစာချုပ်ကိုတရားဝင် ချုပ်ဆိုနိုင်ခွင့်ရှိသူဖြစ်ပါသည်။

(၂) မြေအငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံကုမ္ပဏီအက် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဖြစ်ပြီး ဤစာချုပ်ပါလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးအင်အား လုံလောက်တောင့်တင်းကြောင်းနှင့် ဤစာချုပ်ကိုတရားဝင်ချုပ်ဆိုနိုင်ခွင့်ရှိကြောင်းအာမခံပါသည်။

၃။ **ငှားရမ်းအသုံးပြုခွင့်ပြုသည့်မြေနေရာ**

မြေအငှားချထားသူအပိုင်ဖြစ်သည့် တာချီလိတ်လေဆိပ်နယ်မြေအတွင်း ပေ(၂၀၀x၂၀၀) အကျယ်ရှိစုစုပေါင်းဧက (၀.၉၂) (၃၇၁၆.၁၂) စတုရန်းမီတာမြေနေရာဖြစ်သည်။ ယင်းမြေ၏ တည်နေရာအသေးစိပ် ဖော်ပြသည့်မြေပုံကို နောက်ဆက်တွဲ(က)ဖြင့် ပူးတွဲထားပြီးယင်းမြေပုံသည် ဤစာချုပ်၏ တစ်စိပ်တစ်ဒေသဖြစ်ပါသည်။

၄။ **သယံဇာတတွေ့ရှိခြင်း**

မြေအငှားချထားခြင်းခံရသူသည် ငှားရမ်းအသုံးပြုခွင့်ပေးသည့် မြေတွင် စာချုပ်သက်တမ်းအတွင်း ယင်းမြေ၏ အတွင်း၊ အောက်၊ ဝန်းကျင်ရှိသဘာဝအရင်းအမြစ် သယံဇာတများ၊ ဓာတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မီးသွေး၊ ရေနံ၊ ဓာတ်ငွေ့၊ ရတနာကျောက်များ၊ ရှေးဟောင်းပစ္စည်းများရှိလျှင် မြေအငှားချထားသူနှင့် သက်ဆိုင်ရာနိုင်ငံတော်အဖွဲ့အစည်းသို့ ချက်ချင်းအကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

၅။ **မြေငှားရမ်းအသုံးပြုခွင့်ပြုသည့်ကာလ**

(၁) မြေငှားရမ်းအသုံးပြုခွင့်ပြုသည့်ကာလမှာ ဤစာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီး စာချုပ် စတင်အကျိုးသက်ရောက်သည့်နေ့မှစတင်၍ (၁၀)နှစ်ဖြစ်ပြီး (၅)နှစ်လျှင်(၁) ကြိမ်စီ စာချုပ်ပြန်လည်ချုပ်ဆိုရမည်ဖြစ်သည်။

(၂) မြေငှားရမ်းအသုံးပြုခွင့်ပြုသည့်ကာလ စေ့ရောက်ကုန်ဆုံးသည့်အခါ အကယ်၍ မြေအငှားချထားခြင်းခံရသူက ယင်းမြေ၌ လုပ်ငန်းဆက်လက် ငှားရမ်းလိုပါက အငှားချထားသည့် သက်တမ်းမကုန်ဆုံးမီ(၆)လကြိုတင်၍ စာဖြင့် မြေအငှားချထားသူထံတင်ပြလျှောက်ထား၍ သက်တမ်းတိုးနိုင်ခွင့်ရှိသည်။

(၃) မြေအငှားချထားသူသည် ယင်းလျှောက်ထားချက်ကို ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြပြီးသဘောတူအတည်ပြုချက်ရရှိပါကဆက်လက်၍ ငှားရမ်းအသုံးပြုခွင့်ပေးနိုင်သည်။

**၆။ မြေအငှားချထားသူအားငှားရမ်းသည့်မြေပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

မြေအငှားချထားခြင်းခံရသူသည် မြေငှားရမ်းအသုံးပြုခွင့်ကာလကုန်ဆုံးသည့်အခါဖြစ်စေ စာချုပ်ရုပ်စဲရန် အကြောင်းတစ်ရပ်ရပ်ပေါ်ပေါက်၍ ဤစာချုပ်ကိုရုပ်စဲရလျှင်ဖြစ်စေ ငှားရမ်းအသုံးပြုသည့်မြေအား ကောင်းမွန်သောအနေအထားဖြင့် မည်သည့်အဖိုးစားနားမျှမပါဘဲ မြေငှားရမ်းခြင်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရုပ်စဲသည့်နေ့မှစ၍ (၁)လအတွင်းမြေအငှားချထားသူထံသို့ အပြီးအပိုင်ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၇။ ဤသဘောတူစာချုပ်သည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက်ဖြင့် စာချုပ်ဝင် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**၈။ မြေငှားရမ်းခပေးချေခြင်း**

(၁) မြေငှားရမ်းခမှာတစ်နှစ်လျှင် (၁)တစ်စတုရန်းမီတာကို မြန်မာငွေကျပ် ၅၀၀၀/-နှုန်းဖြင့် (၃၇၁၆.၁၂)စတုရန်းမီတာအတွက် မြန်မာငွေ(ကျပ် ၁၈၅၈၀၆၀၀/-တိတိ)ဖြစ်သည်။ မြေငှားရမ်းခတိုးခြင်း၊ လျှော့ခြင်းနှင့် စပ်လျဉ်း၍ ညှိနှိုင်းရာတွင် မူလငှားရမ်းခ၏ (၁၅%)ထက်ပိုပြီးတိုးခြင်း၊ လျှော့ခြင်းမပြုလုပ်ရ။

(၂) မြေအငှားချထားခြင်းခံရသူသည် မြေငှားရမ်းခြင်းသဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှရက်(၃၀)အတွင်း(၁)နှစ်စာငှားရမ်းခကျသင့်ငွေညီမျှကျပ်(ကျပ် ၁၈၅၈၀၆၀၀/-တိတိ)အားပေးချေရမည်။

၉။ **Land Used Premium**

(၀.၉၂)ဧကလျှောင်ကျပ်(၇၀)သိန်းနှုန်းဖြင့် တာချီလိတ်လေဆိပ်အတွင်း ငှားရမ်းမြေ(၂၀၀x၂၀၀) (၀.၉၂)ဧကအတွက် ကျပ်(၇၀)သိန်းကို မြေအငှားချထားခြင်းခံရသူက အောက်ဖော်ပြပါ အရစ်များအတိုင်း ပေးသွင်းရမည်-

(၁) **ပထမအရစ်**။ စာချုပ်လက်မှတ်ရေးထိုးသောရက်မှစတင်၍ (၅)ရက်အတွင်း ၅၀%

(၂) **ဒုတိယအရစ်**။ လုပ်ငန်းစတင် အကောင်အထည်ဖော်သည့်ရက်မှစတင်၍ (၅)ရက်အတွင်း ကျန် ၅၀%။

၁၀။ **မြေအငှားချထားသူ၏တာဝန်များ**

မြေအငှားချထားသူသည် အောက်ဖော်ပြပါတာဝန်များကိုဆောင်ရွက်ရန်ဖြစ်ပါသည်-

(၁) ဥပဒေနှင့်အညီမြေအငှားချထားခွင့်ရရှိရန်အတွက် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောတူအတည်ပြုချက်တို့ကို လျှောက်ထားတင်ပြရာတွင် လိုအပ်သည်များကိုပံ့ပိုးပေးရမည်။

(၂) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောတူအတည်ပြုချက်ရရှိသည့်အခါ ရွှေမြန်မာလေယာဥ်ဆီ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း (Golden Myanmar Aviation Fuel Services) အားမြေအငှားချထားရမည်။

(၃) အငှားချထားသည့်မြေပေါ်တွင် ရွှေမြန်မာလေယာဥ်ဆီ တင်သွင်းသိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း(Golden Myanmar Aviation Fuel Services) မှ ဤစာချုပ်ပါပေ(၂၀၀x၂၀၀)အကျယ်ရှိ စုစုပေါင်းဧက(၀.၉၂) (၃၇၁၆.၁၂) စတုရန်းမီတာပေါ်တွင် လုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ရန်အတွက် လိုအပ်သောခွင့်ပြုချက်များရရှိရန် လျှောက်ထားတင်ပြရာတွင် လိုအပ်သည်များကိုပံ့ပိုးပေးရမည်။

(၄) အငှားချထားသည့်မြေပေါ်တွင် မြေခွန်(ရှိလျှင်) ပေးဆောင်ရမည်။

၁၁။ **မြေအငှားချထားခြင်းခံရသူ၏ တာဝန်များ**

မြေအငှားချထားခြင်းခံရသူသည် အောက်ဖော်ပြပါတာဝန်များကိုဆောင်ရွက်ရန်ဖြစ်ပါသည်-

(၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောတူအတည်ပြုချက် ရရှိသည့်အခါ ဤစာချုပ်ပါမြေအား ငှားရမ်းအသုံးပြုခွင့်ရရှိသည့်နေ့မှစ၍ ပထမနှစ်အတွက် မြေငှားရမ်းခနှင့် Land Used Premium ကို အထက်အပိုဒ်(၈)နှင့် (၉)တွင် ဖော်ပြပါရှိသည့်အတိုင်း မြေအငှားချထားသူအား ပေးချေရမည်။

(၂) ဤစာချုပ် အကျိုးသက်ရောက်မှုရှိသည့်နေ့မှစ၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြားသက်ဆိုင်သော အခွန်အခများကိုပေးဆောင်ရမည်။

(၃) အဆောက်အဦးများတည်ဆောက်ရာတွင် ရေဆိုးများမရှိစေရန်၊ ရေစီးရေလာကောင်းမွန်ရေး၊ စွန့်ပစ်စနစ်တည်ဆောက်ရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေး စသည်များနှင့် သက်ဆိုင်သောစနစ်များကို တည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များနှင့်အညီ စီမံဆောင်ရွက်ရမည်။

(၄) ငှားရမ်းထားရှိသောပေ(၂၀၀x၂၀၀)အကျယ်ရှိစုစုပေါင်းဧက(၀.၉၂) (၃၇၁၆.၁၂) စတုရန်းမီတာအတွက် လိုအပ်သည့်အာမခံများကို မြန်မာ့အာမခံလုပ်ငန်းဥပဒေနှင့်အညီ အာမခံများထားရှိရမည်။

(၅) အငှားချထားသည့် မြေကွက်တစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ သို့မဟုတ်ဤစာချုပ်ပါလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ဒေသကိုဖြစ်စေ မြေအငှားချထားသူ၏စာဖြင့် ကြိုတင်သဘောတူခွင့်ပြုချက် မရရှိဘဲအခြားပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်း အားထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ တစ်နည်းနည်းဖြင့် လွှဲအပ်ပေးခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်းမပြုလုပ်ရ။

၁၂။ **စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ်ဖြစ်ပေါ်လျှင် ရပ်စဲပြီးဆုံးပြီးဖြစ်သည်-

(၁) ဤစာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့မှ စာချုပ်ရပ်စဲရန်စာဖြင့် သဘောတူကြပြီးပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောတူအတည်ပြုချက်ဖြင့် ရပ်စဲခြင်း၊

(၂) မြေငှားရမ်းအသုံးပြုခွင့်ပေးသည့်ကာလကုန်ဆုံးခြင်း၊

(၃) မြေအငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါတာဝန်တစ်ရပ်ရပ် သို့မဟုတ် အဓိကစည်းကမ်းချက်တစ်ရပ်ရပ်ကိုဖောက်ဖျက်ခြင်း၊

(၄) မြေအငှားချထားခြင်းခံရသူသည် မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်တို့ကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ကြီးမားသောဆုံးရှုံးမှုအဆက်မပြတ်ဖြစ်ပေါ်ခြင်း၊

(၅) မလွန်ဆန်နိုင်သောဖြစ်ရပ် တစ်ရပ်ရပ်ဖြစ်ပေါ်ခြင်းကြောင့် လုပ်ငန်းကို(၆)လထက်မနည်း ဆက်တိုက်ဆောင်ရွက်ခြင်းငှာမစွမ်းနိုင်ခြင်း၊

(၆) မြေအငှားချထားခြင်းခံရသူက လူမွဲအဖြစ်ခံယူခြင်း သို့မဟုတ် ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းခြင်း။

၁၃။ **မြေအငှားချထားခြင်းခံရသူငှားရမ်းသည့်မြေကိုပြန်လည်ရယူပိုင်ခွင့်ရှိခြင်း**

မြေအငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါတာဝန်တစ်ရပ်ကိုဆောင်ရွက်ရန် ပျက်ကွက်လျှင် သို့မဟုတ် စည်းကမ်းချက်တစ်ရပ်ရပ်ကိုဖောက်ဖျက်လျှင် မြေအငှားချထားသူက ယင်းပျက်ကွက်မှုသို့မဟုတ် ဖောက်ဖျက်မှုကို အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း (၃၀)အတွင်း

လိုက်နာဆောင်ရွက်ခြင်းမရှိလျှင် မြေအငှားချထားသူသည် ငှားရမ်းသည့်မြေနှင့် ယင်းမြေပေါ်ရှိ အကျိုးခံစားခွင့် အရပ်ရပ်တို့ကို ပြန်လည်လက်ရောက်ရယူခွင့်ရှိသည်။ ထိုအခါ ဤစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဘက် သဘောတူကြပါသည်။ ဤသို့ စာချုပ်ရပ်စဲခြင်းကြောင့် ဤစာချုပ်ပါ မြေအငှားချထားသူက မြေအငှားချထားခြင်းခံရသူထံမှရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကိုမထိခိုက်စေရ။ အကယ်၍ မြေအငှားချထားသူမှ ငှားရမ်းသည့်မြေနှင့် ယင်းမြေပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်ကိုဝင်ရောက်၍ လက်ရောက်ရယူသည့်ကိစ္စတွင် မြေအငှားချထားခြင်းခံရသူမှ မြေအငှားချထားသူအားပေးရန် ကျန်ရှိသော ငှားရမ်းခများပေးချေရန် တာဝန်မှ ကင်းလွတ်ခြင်းမရှိစေရ။

၁၄။ **အငြင်းပွားမှုဖြေရှင်းခြင်း**

(၁) ဤစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်နှင့် စပ်လျဉ်း၍ နှစ်ဘက်အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဘက်အေးချမ်းစွာ စေ့စပ်ညှိနှိုင်းဆွေးနွေးခြင်းဖြင့် ဖြေရှင်းဆောင်ရွက်ရန်ဖြစ်သည်။

(၂) နှစ်ဦးနှစ်ဘက် အေးချမ်းစွာ စေ့စပ်ညှိနှိုင်းဆွေးနွေးခြင်းဖြင့် ဖြေရှင်း၍ မရနိုင်ပါက စီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။

၁၅။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ ငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်ကလိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူမလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် မြေငှားချထားခြင်းခံရသူသည် မြေငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း မြေငှားချထားခြင်းခံရသူသည် မြေငှားချထားသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ မြေငှားချထားသူကလက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကိုသက်သာခွင့်ပြုနိုင်သည်။

၁၆။ **စာချုပ်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း**

(၁) ဤစာချုပ်ချုပ်ဆိုအတည်ဖြစ်ပြီးနောက် ကြိုတင်မျှော်မှန်းထားခြင်းမရှိသော အခြေအနေသို့ အကြောင်းအရာတစ်ရပ်ရပ် ပေါ်ပေါက်ခြင်းကြောင့် ဤစာချုပ်ပါ စည်းကမ်း

ချက် တစ်စုံတစ်ရာအားပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း သို့မဟုတ် ဖြည့်စွက်ခြင်းပြုလုပ်ရန်လိုအပ်လျှင် ဤစာချုပ်ဝင် နှစ်ဦးနှစ်ဘက် ညှိနှိုင်းပြီးသဘောတူညီချက်အရစာဖြင့်ရေးသား၍ နှစ်ဦးနှစ်ဘက်လက်မှတ်ရေးထိုးပြီးပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းသို့မဟုတ် ဖြည့်စွက်ခြင်းပြုလုပ်နိုင်သည်။

(၂) ယင်းသို့ စာဖြင့်ရေးသား၍ စာချုပ်ဝင်များလက်မှတ်ရေးထိုးထားသည့် ပြင်ဆင်ချက် သို့မဟုတ် ပြောင်းလဲချက်ကိုဖြစ်စေ၊ ဖြည့်စွက်ချက်ကိုဖြစ်စေ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်းသို့ တင်ပြပြီး အတည်ပြုချက်တောင်းခံရမည်။ ထိုသို့တင်ပြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် အထက်အဖွဲ့အစည်း၏ သဘောတူခွင့်ပြုချက်ရရှိမှသာ ဤစာချုပ်၏ အစိတ်အပိုင်းအဖြစ် ဤစာချုပ်ဝင်များအပေါ် တရားဝင်အကျိုးသက်ရောက်မှုရှိစေရမည်။

၁၇။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

မြေအငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေ၊ ရေ၊ မြေညစ်ညမ်းခြင်းမရှိစေရန်နှင့် သဘာဝအနေအထား ပျက်စီးခြင်းမရှိစေရန်လည်းကောင်း၊ ပတ်ဝန်းကျင်နယ်မြေတွင် အလားတူဆောင်ရွက်မှုများကို ထိပါးနှောင့်ယှက်ခြင်းမရှိစေရန်လည်းကောင်း၊ လိုအပ်သောအကာအကွယ်များကို ကြိုတင်စီမံဆောင်ရွက်ထားရှိရမည်။

၁၈။ **အထွေထွေကိစ္စရပ်များ**

(၁) ဤစာချုပ်ပါ စည်းကမ်းချက်များသည် ဤစာချုပ်ဝင် နှစ်ဦးနှစ်ဘက်တို့အကြား၌ ယခင်ကရှိခဲ့သောအပြန်အလှန်နားလည်မှုများ၊ သဘောတူညီချက်များအားလုံးကို လွှမ်းမိုးစေရမည်။

(၂) ဤစာချုပ်တွင် ပူးတွဲထားရှိသောပုံကြမ်း(ပ)နှင့် နောက်ဆက်တွဲ(က)သည် ဤစာချုပ်၏ တစ်စိတ်တဒေသအဖြစ် မှတ်ယူရမည်။

(၃) ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်အား ငှားရမ်းသည့်သက်တမ်းကာလအတွင်းနှင့် နောက်ထပ်သက်တမ်းတိုးကာလအတွင်းတွင် ဤမြေငှားရမ်းခြင်းစာချုပ်ပါ စည်းကမ်းချက်များမှတစ်ပါး မြေငှားရမ်းခြင်းစာချုပ်အား ယာယီရပ်ဆိုင်းခြင်း၊ ဖျက်သိမ်းခြင်းမျိုး မပြုလုပ်ရ။

(၄) ဤစာချုပ်ဝင် နှစ်ဘက်အချင်းချင်းစာပေးစာယူအဆက်အသွယ် ပြုလုပ်ကြရန်လိပ်စာမှာအောက်ဖော်ပြပါ လိပ်စာများအတိုင်းဖြစ်သည်။ အကယ်၍ ဆက်သွယ်ရန်လိပ်စာအပြောင်းအလဲရှိပါက အခြားတစ်ဘက်အား သိရှိနိုင်ရန် အသိပေးအကြောင်းကြားရမည်။

